ကန့်သတ်

ကုမ္ပဏီအမည် - MSL Industries Company Limited

လုပ်ငန်း - Contract Processing စနစ်နှင့် Normal စနစ် (၂)မျိုးဖြင့် ငါး၊ ပုစွန် တို့ကို ပြုပြင်ထုတ်လုပ်၍ ပြည်တွင်းပြည်ပသို့ တင်ပို့ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၁၆-၃-၂၀၁၆ | | |
| ၂ | အဆိုပြုချက်အား ကုမ္ပဏီဌာနခွဲသို့ ပေးပို့အကြောင်းကြားခြင်း | ၂၂-၃-၂၀၁၆ | | |
| ၃ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၂၄-၃-၂၀၁၆<br>၆-၅-၂၀၁၆<br>၂၄-၆-၂၀၁၆ | ၂၀-၇-၂၀၁၆ | |
| | (ခ) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန | ၂၄-၃-၂၀၁၆ | ၃၀-၃-၂၀၁၆ | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၂၄-၃-၂၀၁၆ | ၆-၄-၂၀၁၆ | |
| ၄ | PAT တင်ပြခြင်း (၁၂/၂၀၁၆) | ၂၀-၃-၂၀၁၆ | | |
| ၅ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၂၄-၃-၂၀၁၆ | | |
| ၆ | PATဆုံးဖြတ်ချက်အရ လိုအပ်ချက်များအကြောင်းကြားခြင်း | ၃၀-၃-၂၀၁၆ | | |
| ၇ | ကုမ္ပဏီမှ လိုအပ်ချက်များပြင်ဆင်တင်ပြခြင်း | ၂၆-၇-၂၀၁၆ | | |
| ၈ | ကုမ္ပဏီမှ အဆိုပြုချက် (၁၀)စုံ ပေးပို့ခြင်း | ၂-၈-၂၀၁၆ | | |
| ၉ | ကော်မရှင်အစည်းအဝေးသို့ တင်ပြခြင်း | ၁၉-၈-၂၀၁၆ | | |
| | စုစုပေါင်းကြာမြင့်ရက် | ၁၅၇ ရက် | | |

၁။ ကုမ္ပဏီအမည် — MSL Industries Company Limited

၂။ အဖွဲ့အစည်းပုံသဏ္ဍာန် — မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု

၃။ လုပ်ငန်းအမျိုးအစား — Contract Processing စနစ်နှင့် Normal စနစ် (၂)မျိုးဖြင့် ငါး၊ ပုစွန်တို့ကို ပြုပြင်ထုတ်လုပ်၍ ပြည်တွင်းပြည်ပသို့ တင်ပို့ရောင်းချခြင်းလုပ်ငန်း

၄။ တည်နေရာ — ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရပ်ကွက်၊ ဘုရင့်နောင်လမ်းမ၊ အမှတ်-၂၂ ငါးလုပ်ငန်း ဦးစီးဌာန၏ မြေ ၆.၁ ဧကအနက်မှ ၄.၂ ဧက

၅။ စုစုပေါင်းရင်းနှီးမြှုပ်နှံမှု — ကျပ် ၅၆၉၀.၉၃၉ သန်း

၆။ ရောင်းချမည့်စနစ် — ပြည်ပတင်ပို့၊ ပြည်တွင်းရောင်း

၇။ လုပ်ငန်းသက်တမ်း — ၅၀ နှစ်

၈။ အရင်းကြေကာလ — ၆ နှစ် ၁လ

၉။ IRR — ၁၆.၀၄%

အထက်ပါလုပ်ငန်း ဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့်ပြုစုတင်ပြအပ်ပါသည်။

| စဉ် | အကြောင်းအရာ | Cost (ကျပ်သန်း) | Benefit(ကျပ်သန်း) |
|---|---|---|---|
| ၁ | နိုင်ငံဝန်ထမ်းလစာ | ၂.၁၆၀ | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | | ၁.၁၆၅ |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ၁၅.၆၂၅ | |
| ၄ | ကုန်သွယ်လုပ်ငန်းခွန် | | ၉၃.၈၇၅ |
| ၅ | ဝင်ငွေခွန် | ၇၅၈.၇၀၉ | ၁၀၁၇.၄၉၅ |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ၁၈၆၂.၇၁၅ |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေ ကျပ်သိန်း လေးဆယ့်ရှစ်သိန်း ထက်ကျော်ပါကအခွန်ပေးရမည့် ဝန်ထမ်း(၂၀၆)ဦး |
| ၈ | CSR (၂%) | | ၄၄.၄၂၀ |
| ၉ | အလုပ်အကိုင် အခွင့်အလမ်း | | ပြည်တွင်းလုပ်သား (၆၆၉) ဦး အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်း နှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကို အထောက်အကူပြုစေ ပါသည်။ |
| ၁၀ | မြေငှားရမ်းခ | | ၂၅.၄၃ |
| | စုစုပေါင်း | ၇၇၆.၄၉၄ | ၃၀၃၈.၁၄၀ |
| | Cost & Benefit | ၁:၄ | |

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် MSL Industries Company Limited မှ Contract Processing စနစ်နှင့် Normal စနစ် (၂)မျိုးဖြင့် ငါး၊ ပုစွန် တို့ကို ပြုပြင်ထုတ်လုပ်၍ ပြည်တွင်းပြည်ပသို့တင်ပို့ရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/ ကမကထပြုသူ | - MSL Industries Company Limited<br>- ဦးကြံခင်း (အဘ-ဦးဘွန်အစ်) |
| | အဖွဲ့အစည်းပုံသဏ္ဍာန် | - မြန်မာနိုင်ငံသားရင်းနှီးမြှုပ်နှံမှု |
| | လုပ်ငန်းအမျိုးအစား | - Contract Processing စနစ်နှင့် Normal စနစ် (၂)မျိုးဖြင့် ငါး၊ ပုစွန် တို့ကို ပြုပြင်ထုတ်လုပ်၍ ပြည်တွင်းပြည်ပသို့ တင်ပို့ရောင်းချခြင်းလုပ်ငန်း |
| ၂။ | တည်နေရာ | - ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရပ်ကွက်၊ ဘုရင့်နောင်လမ်းမ၊ အမှတ်-၂၂ ငါးလုပ်ငန်းဦးစီးဌာန၏ မြေ ၆.၁ ဧကအနက်မှ ၄.၂ ဧက |
| | မြေပိုင်ရှင် | - မွေးမြူရေး၊ ရေလုပ်ငန်းနှင့် ကျေးလက်ဒေသ ဖွံ့ဖြိုးရေးဝန်ကြီးဌာန၊ ငါးလုပ်ငန်းဦးစီးဌာန |
| | မြေအကျယ်အဝန်း | - ၆.၁ ဧကအနက်မှ ၄.၂ ဧက (၁၆၉၉၆.၇၉ စတုရန်းမီတာ) |
| | မြေငှားရမ်းခ | - ၄.၂ ဧကအတွက် တစ်နှစ်လျှင် ၈,၄၉၆,၆၀၀ ကျပ် (တစ်နှစ်တစ်စတုရန်းမီတာလျှင် ၅၀၀ ကျပ်နှုန်း) |
| | တည်ဆောက်ရေးကာလ | - ၁ နှစ် |
| ၃။ | လုပ်ငန်းသက်တမ်း | - ကနဦး ၅၀ နှစ် |
| ၄။ | စုစုပေါင်းမတည်ငွေရင်း | - ကျပ် ၅၆၉၀.၉၃၉ သန်း (US$ ၀.၂၅ သန်း အပါအဝင်) |
| | ထည့်ဝင်သည့်အမျိုးအစား(ကျပ်/သန်း) | |

| | | | |
|---|---|---|---|
| | **ထည့်ဝင်ပြီး မတည်ငွေရင်း*** | **ထပ်မံထည့်ဝင်မည့် မတည်ငွေရင်း** | **စုစုပေါင်း** |
| အဆောက်အဦ | ၄၀၅၃.၃၀၆ | ၂၀၄.၇၃၇ | ၄၂၅၈.၀၄၃ |
| စက်ပစ္စည်း | ၉၆၅.၆၉၁ | ၃၁၉.၅၀၀ (US$ ၀.၂၅ သန်း) | ၁၂၈၅.၁၉၁ (US$ ၀.၂၅ သန်း အပါအဝင်) |
| စက်ပစ္စည်းပြင်ဆင်ထိန်းသိမ်းခြင်း | | ၉၆.၅၆၉ | ၉၆.၅၆၉ |
| ရုံးသုံးစက်ပစ္စည်း | ၁၈.၅၅၈ | | ၁၈.၅၅၈ |
| ရုံးသုံးပရိဘောဂ | ၁၀.၄၉၁ | | ၁၀.၄၉၁ |
| ကွန်ပျူတာနှင့်စက်အပိုပစ္စည်း | ၀.၈၇၃ | | ၀.၈၇၃ |
| လျှပ်စစ်စက်ကိရိယာ | ၂.၅၈၃ | | ၂.၅၈၃ |
| မော်တော်ယာဉ် | ၁၈.၆၃၁ | | ၁၈.၆၃၁ |
| **စုစုပေါင်း** | ၅၀၇၀.၁၃၃ | ၆၂၀.၈၀၆ (US$ ၀.၂၅ သန်း အပါအဝင်) | ၅၆၉၀.၉၃၉ (US$ ၀.၂၅ သန်း အပါအဝင်) |

* Myanmar Seafoods Limited မှ လွှဲပြောင်းဝယ်ယူထားခြင်း ဖြစ်ပါသည်။

| | | |
|---|---|---|
| ၅။ | ဝန်ထမ်းအင်အား | - ၆၇၀ ဦး<br>- **ပြည်တွင်း ၆၆၉ ဦး** (ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ ၁၁၀,၀၀၀ ကျပ် နှင့် အမြင့်ဆုံးလစာ ၅၀၀,၀၀၀ ကျပ်)<br>- **ပြည်ပ ၁ ဦး** (ဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ US$ ၂,၀၀၀) |
| ၆။ | ရောင်းချမည့်စနစ် | (က) Normal စနစ်- ၉၀%ပြည်ပတင်ပို့၊ ၁၀% ပြည်တွင်းရောင်း<br>(ခ) Contract Processing စနစ် - ၁၀၀% ပြည်ပတင်ပို့၊ |
| | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် (ပြည်ပတင်ပို့) | **(က) Normal စနစ်** (၉၀ %)<br>**စဉ် / ပစ္စည်းအမျိုးအစား / အရေအတွက် (တန်) / ရောင်းချမည့်ဈေးနှုန်း (US$/ တန်)**<br>(၁) Prawn / ၇၉၀ / ၇,၂၀၀<br>(၂) Fish / ၁၃၁၈ / ၁,၄၀၀<br>**(ခ) Contract Processing စနစ်** (၁၀၀%)<br>**စဉ် / ပစ္စည်းအမျိုးအစား / အရေအတွက် (တန်) / CP ဈေးနှုန်း ( US$/တန်)**<br>(၁) Shrimp/ Fish / ၃၈၀ / ၁,၅၀၀<br>(၂) Value Added (Sea food) / ၁၉၀ / ၂,၅၀၀ |
| | နှစ်စဉ်ထုတ်လုပ်မှု ပုံမှန်နှစ် (၆)နှစ်မြောက် (ပြည်တွင်းရောင်း) | **(က) Normal စနစ်** (၁၀ %)<br>**စဉ် / ပစ္စည်းအမျိုးအစား / အရေအတွက် (တန်) / ရောင်းချမည့်ဈေးနှုန်း (ကျပ်/ တန်)**<br>(၁) Prawn / ၈၇ / ၉,၂၁၆,၀၀၀<br>(၂) Fish / ၁၄၆ / ၁,၇၉၂,၀၀၀ |
| ၇။ | ကုမ္ပဏီ၏ ဝင်ငွေ (၆ နှစ်မြောက်) | - ကျပ် ၁၂,၈၉၁.၃၆၁ သန်း |
| | အသုံးစရိတ် | - ကျပ် ၁၁,၈၇၃.၈၆၇ သန်း |
| | ကုမ္ပဏီ၏ အသားတင်အမြတ်(၆ နှစ်) | - ကျပ် ၁,၀၁၇.၄၉၄ သန်း |
| ၈။ | နိုင်ငံတော်မှရရှိမည့်အကျိုးအမြတ် ဝင်ငွေခွန် | - ကျပ် ၃၃၉.၁၆၅ သန်း |
| | အရင်းကြေကာလ | - ၆ နှစ် ၂ လ |
| | အရင်းအနှီးအပေါ်အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) | - ၁၆.၀၄% |
| ၉။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု (နှစ်စဉ်) | - ၃,၆၅၁,၉၀၀ kWh |
| ၁၀။ | CSR | - အသားတင်အမြတ်၏၂%ကို လျာထားသုံးစွဲမည်ဖြစ်ပါသည်။ |
| ၁၁။ | မီးဘေးလုံခြုံရေးစီမံချက် | - မီးဘေးလုံခြုံရေးဧရိယာ ပိုင်းခြားသတ်မှတ်ခြင်း၊ ကြိုတင်ကာကွယ်ရေးနည်းလမ်းများ၊ မီးလောင်စဉ် ဆောင်ရွက်ရန်နည်းလမ်းများနှင့် မီးလောင်မှုဖြစ်ပွားပြီးနောက် ဆောင်ရွက်ရန်နည်းလမ်းများကိုစနစ်တကျစီမံခန့်ခွဲရေးဆွဲတင်ပြထားပါသည် |

| | | |
|---|---|---|
| ၁၂။ | အခြားတင်ပြချက် | - အဆိုပြုလုပ်ငန်းသည် ငါးလုပ်ငန်းဦးစီးဌာနပိုင် မြေတွင် ဆောင်ရွက်လုပ်ကိုင်မည့်အပေါ် စိုက်ပျိုးရေး၊ မွေးမြူရေး နှင့် ဆည်မြောင်းဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြု တင်ပြလာခြင်း ဖြစ်ပါသည်။<br>- အဆိုပြုလုပ်ငန်းသည် ငါးလုပ်ငန်းဦးစီးဌာနပိုင် မြေအားငှားရမ်းဆောင်ရွက်ခြင်းအပေါ် ပြည်ထောင်စုအစိုးရအဖွဲ့မှ သဘောတူခွင့်ပြုပြီးဖြစ်ပါသည်။<br>- ငါးလုပ်ငန်းဦးစီးဌာနနှင့် MSL Industries Company Limited တို့ချုပ်ဆိုထားသော BOT စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ် တင်ပြထားပါသည်။<br>- ငါးလုပ်ငန်းဦးစီးဌာနနှင့် MSL Industries Company Limited တို့ချုပ်ဆိုထားသော BOT စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း) အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက် တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေ ၄.၂ ဧကအတွက် မြေငှားရမ်းခ တွက်ချက်မှု တင်ပြထားပါသည်။<br>- မြန်မာနိုင်ငံရှိ Myanmar Oriental Bank Ltd. တွင် MSL Industries Company Limited သည် ၂၉-၉-၂၀၁၅ ရက်စွဲဖြင့် ၁,၀၀၄,၉၉၅ ကျပ် ရှိကြောင်းနှင့် ၂၂-၂-၂၀၁၆ ရက်စွဲဖြင့် US$ ၁၇၉,၂၀၉.၃၇ ရှိကြောင်း ငွေကြေးအထောက်အထားများ တင်ပြထားပါသည်။<br>- MSL Industries Company Limited ၏ ကုမ္ပဏီမှတ်ပုံတင်၊ MOA, AOA (မိတ္တူ)များ တင်ပြထားပါသည်။<br>- ဒါရိုက်တာအဖွဲ့ဝင်များ၏မှတ်ပုံတင်မိတ္တူတင်ပြထားပါသည်။<br>- စက်ရုံ၏တည်နေရာပြမြေပုံ နှင့် Layout Plan များကို တင်ပြထားပါသည်။<br>- လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်၊ ပတ်ဝန်းကျင် ထိန်းသိမ်းစောင့်ရှောက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်၊ Waste Water Treatment Plant ၏ အစီရင်ခံစာ၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည် ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်နှင့် CSR Project တို့ကို တင်ပြထားပါသည်။ |

| | | |
|---|---|---|
| ၁၁။ | စိစစ်တင်ပြချက် | - အဆိုပြုချက်အား ၂၀၁၆ ခုနှစ် မတ်လ ၂၁ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၁၂/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပါသည်။<br>- ကုမ္ပဏီသည် အဆိုပြုမြေ ၆.၁ ဧက အနက်မှ ၄.၂ ဧကကို အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြလာခြင်း ဖြစ်ပြီး ကျန် ၁.၉ဧကတွင် သိုလှောင်ရုံနှင့် ကုန်ပစ္စည်း ဖြန့်ဖြူးရေး ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်မည် ဖြစ်ပါသည်။<br>- Contract Processing စနစ်ဖြင့် ထုတ်လုပ်မည့် အမျိုးအစားကို ပြည်ပမှ အမှာအရ တင်သွင်း၍ ထုတ်လုပ်ရမည် ဖြစ်သောကြောင့် Shrimp/ Fish ဖြင့် ဖော်ပြထားပါသည်။<br>- Exchange Rate အနေဖြင့် 1US$ = 1250 MMK ဖြင့် ဖော်ပြထားပါသည်။ |

ကန့်သတ်

၇

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်**

စာအမှတ်၊ မရက-၂/မ-၂၃၇/၂၀၁၆( ၆၀၆ )

ရက်စွဲ ၊ ၂၀၁၆ ခုနှစ် ဩဂုတ်လ ၁၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**

**တင်ပြသည့် အမှာစာ**

အကြောင်းအရာ။ **မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် MSL Industries Company Limited မှ Contract Processing စနစ်နှင့် Normal စနစ် (၂)မျိုးဖြင့် ငါး၊ ပုစွန် တို့ကို ပြုပြင်ထုတ်လုပ်၍ ပြည်တွင်းပြည်ပသို့တင်ပို့ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ မြန်မာနိုင်ငံရှိ MSL Industries Company Limited မှ မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရပ်ကွက်၊ ဘုရင့်နောင်လမ်းမ၊ အမှတ်-၂၂ ငါးလုပ်ငန်းဦးစီးဌာန၏ မြေ ၆.၁ ဧကအနက်မှ ၄.၂ ဧက (၁၆၉၉၆.၇၉ စတုရန်းမီတာ) ကို ငှားရမ်းကာ Contract Processing စနစ်နှင့် Normal စနစ် (၂)မျိုးဖြင့် ငါး၊ ပုစွန် တို့ကို ပြုပြင်ထုတ်လုပ်၍ ပြည်တွင်းပြည်ပသို့ တင်ပို့ရောင်းချခြင်းနှင့် ပြည်ပသို့ ပြန်လည်တင်ပို့ခြင်း လုပ်ငန်းကို ဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ စိုက်ပျိုးရေး၊ မွေးမြူရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနမှ တစ်ဆင့် အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ ငါးလုပ်ငန်းဦးစီးဌာနနှင့် MSL Industries Company Limited တို့ချုပ်ဆိုထားသော BOT စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ်၊ ငါးလုပ်ငန်းဦးစီးဌာနနှင့် MSL Industries Company Limited တို့ချုပ်ဆိုထားသော BOT စနစ်ဖြင့် မြေငှားရမ်းခြင်း သဘောတူစာချုပ် (မူကြမ်း) အပေါ် ပြည်ထောင်စုရှေ့နေချုပ်ရုံး၏ သဘောထားမှတ်ချက်တို့ကို တင်ပြထားပါသည်။

၃။ မြေအကျယ်အဝန်းမှာ စုစုပေါင်း ၆.၁ ဧက အနက်မှ ၄.၂ ဧက (၁၆၉၉၆.၇၉ စတုရန်းမီတာ) ဖြစ်ပြီး နှစ်စဉ် မြေငှားရမ်းခမှာ တစ်နှစ် တစ်စတုရန်းမီတာလျှင် ၅၀၀ ကျပ် နှုန်းဖြင့် ၄.၂ ဧကအတွက် တစ်နှစ်လျှင် ၈,၄၉၆,၆၀၀ ကျပ် ဖြစ်ပါသည်။ မြေငှားသက်တမ်းမှာ ကနဦး ၅၀ နှစ် ဖြစ်ပါသည်။

၄။ လုပ်ငန်းစီမံကိန်းကာလမှာ ကနဦး ၅၀ နှစ် ဖြစ်ပြီး တည်ဆောက်ရေးကာလမှာ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

ကန့်သတ်

၅။ လုပ်ငန်း၏ စုစုပေါင်းမတည်ငွေရင်း မှာ ကျပ် ၅၆၉၀.၉၃၉ သန်း (အမေရိကန်ဒေါ်လာ ၀.၂၅ သန်းအပါအဝင်) ဖြစ်ပြီး အောက်ပါအတိုင်း ထည့်ဝင်ထားပါသည်-

| စဉ် | အမျိုးအစား | ထည့်ဝင်ပြီး မတည်ငွေရင်း* | ထပ်မံထည့်ဝင်မည့် မတည်ငွေရင်း | စုစုပေါင်း |
|---|---|---|---|---|
| (က) | အဆောက်အဦ | ၄၀၅၃.၁၀၆ | ၂၀၄.၇၃၇ | ၄၂၅၈.၀၄၃ |
| (ခ) | စက်ပစ္စည်း | ၉၆၅.၆၉၁ | ၁၁၉.၅၀၀ | ၁၂၈၅.၁၉၁ |
| (ဂ) | စက်ပစ္စည်းပြင်ဆင် ထိန်းသိမ်းခြင်း | | ၉၆.၅၆၉ (US$ ၀.၂၅ သန်း) | ၉၆.၅၆၉ (US$ ၀.၂၅သန်း အပါအဝင်) |
| (ဃ) | ရုံးသုံးစက်ပစ္စည်း | ၁၈.၅၅၈ | | ၁၈.၅၅၈ |
| (င) | ရုံးသုံးပရိဘောဂ | ၁၀.၄၉၁ | | ၁၀.၄၉၁ |
| (စ) | ကွန်ပျူတာနှင့်စက်အပိုပစ္စည်း | ၀.၈၇၃ | | ၀.၈၇၃ |
| (ဆ) | လျှပ်စစ်စက်ကိရိယာ | ၂.၅၈၃ | | ၂.၅၈၃ |
| (ဇ) | မော်တော်ယာဉ် | ၁၈.၆၁၁ | | ၁၈.၆၁၁ |
| | **စုစုပေါင်း** | **၅၀၇၀.၁၃၃** | **၆၂၀.၈၀၆** (US$ ၀.၂၅ သန်း အပါအဝင်) | **၅၆၉၀.၉၃၉** (US$ ၀.၂၅ သန်း အပါအဝင်) |

* Myanmar Seafoods Limited မှ လွှဲပြောင်းဝယ်ယူထားခြင်း ဖြစ်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ ၆၆၉ ဦး နှင့် ပြည်ပမှ ပညာရှင် ၁ ဦး ခန့်ထားမည်ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာမှာ ၁၁၀,၀၀၀ ကျပ်နှင့် အမြင့်ဆုံးလစာမှာ ၅၀၀,၀၀၀ ကျပ် ဖြစ်ပါသည်။ ပြည်ပပညာရှင် ၁ ဦး၏ အနိမ့်ဆုံးလစာမှာ US$ ၂,၀၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ Normal စနစ်ဖြင့် ထွက်ရှိလာသည့် ကုန်ပစ္စည်းများအား ပြည်ပသို့ ၉၀% တင်ပို့ရောင်းချမည်ဖြစ်ပြီး ၁၀% အား ပြည်တွင်း၌ ရောင်းချမည်ဖြစ်ပါသည်။ Contract Processing စနစ်ဖြင့် ထွက်ရှိသည့် ပစ္စည်းများအား ၁၀၀% ပြည်ပသို့ တင်ပို့မည်ဖြစ်ပါသည်။ အဆိုပြုလုပ်ငန်း၏ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်) ရှိ ထုတ်လုပ်မှုနှင့် ဈေးနှုန်းများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) Normal **စနစ်**(၉၀ % ပြည်ပတင်ပို့)

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (တန်) | ရောင်းချမည့် ဈေးနှုန်း (US$/တန် ) |
|---|---|---|---|
| (၁) | Prawn | ၇၉၀ | ၇,၂၀၀ |
| (၂) | Fish | ၁၃၁၈ | ၁,၄၀၀ |

( ခ ) Normal **စနစ်** (၁၀ % ပြည်တွင်းရောင်း)

| စဉ် | ပစ္စည်း အမျိုးအစား | အရေအတွက် (တန်) | ရောင်းချမည့်ဈေးနှုန်း (ကျပ်/တန် ) |
|---|---|---|---|
| (၁) | Prawn | ၃၈၀ | ၉,၂၁၆,၀၀၀ |
| (၂) | Fish | ၁၉၀ | ၁,၇၉၂,၀၀၀ |

(ဂ) Contract Processing **စနစ်** (၁၀၀% ပြည်ပတင်ပို့)

| **စဉ်** | **ပစ္စည်း အမျိုးအစား** | **အရေအတွက် (တန်)** | **CP ဈေးနှုန်း (US$/ တန်)** |
|---|---|---|---|
| (၁) | Shrimp/ Fish | ၈၇ | ၁,၅၀၀ |
| (၂) | Value Added (Sea food) | ၁၄၆ | ၂,၅၀၀ |

၈။ ဤလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဌမမြောက်နှစ်) တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| | | **ကျပ် (သန်း)** |
|---|---|---|
| (က) | ဝင်ငွေ | ၁၂,၈၉၁.၃၆၁ |
| (ခ) | အသုံးစရိတ် | ၁၁,၈၇၃.၈၆၇ |
| (ဂ) | အသားတင်အမြတ် | ၁,၀၁၇.၄၉၄ |

၉။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှဆဌမမြောက်နှစ်တွင်ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေအနေဖြင့် ဝင်ငွေခွန်မှာ ကျပ် ၃၃၉.၁၆၅ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေ ကာလမှာ ၆ နှစ် ၂ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၁၆.၀၄% ဖြစ်ပါသည်။

၁၀။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** မှ အဆိုပါ ရင်းနှီးမြှုပ်နှံမှု လုပ်ငန်းသစ် ဆောင်ရွက်မှုအား ကန့်ကွက်ရန်မရှိကြောင်း သဘောထားပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-က**

(ခ) **ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာ ပူးပေါင်းလုပ်ငန်းအဖွဲ့၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဦးစီးဌာန** မှ အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်း ဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများ တာဝန်ခံ ပူးပေါင်းဆောင်ရွက်မှု (Corporate Social Responsibility -CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂%) ကို အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်မှု မရှိစေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် ကနဦး

ပတ်ဝန်းကျင်ဆန်းစစ်ခြင်း (Initial Environmental Examination-IEE) ကို ဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသား တင်ပြရန်လိုအပ်ပါကြောင်း၊ လေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံး ဖြစ်စေသည့်လုပ်ငန်း ဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ် ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေး ဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ပါဝင်သည့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP) ရေးဆွဲတင်ပြရန်နှင့်စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်လိုအပ်ပါကြောင်းသဘောထားပြန်ကြားထားပါသည်။**နောက်ဆက်တွဲ-ခ**

(ဂ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါကြောင်း၊ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှု မဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါကြောင်းနှင့် ပုဂ္ဂလိက စက်မှုလုပ်ငန်း ဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ကြောင်း သဘောထားမှတ်ချက်ပြန်ကြားထားပါသည်။ **နောက်ဆက်တွဲ-ဂ**

၁၁။ ငွေရေးကြေးရေး အထောက်အထားအဖြစ် မြန်မာနိုင်ငံရှိ Myanmar Oriental Bank Ltd. တွင် MSL Industries Company Limited သည် ၂၉-၉-၂၀၁၅ ရက်စွဲဖြင့် ၁,၀၀၄,၉၉၅ ကျပ် ရှိကြောင်းနှင့် ၂၂-၂-၂၀၁၆ ရက်စွဲဖြင့် US$ ၁၇၉,၂၀၉.၃၇ ရှိကြောင်း ငွေကြေးအထောက်အထားများ တင်ပြထားပါသည်။

၁၂။ MSL Industries Company Limited မှ မီးဘေးကြိုတင် ကာကွယ်ရေးစီမံချက်၊ လုပ်ငန်းသဘောသဘာဝ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာ ချောင်ချိရေး စီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်း စောင့်ရှောက်မည် ဖြစ်ကြောင်း ကတိဝန်ခံချက်၊ အလုပ်သမားများ လစာအပေါ် ဝင်ငွေခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိပြုစာ၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များ လျှောက်ထားချက်၊ CSR Project၊ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့် မြေ ၄.၂ ဧကအတွက် မြေငှားရမ်းခ တွက်ချက်မှု၊ ကုမ္ပဏီ မှတ်ပုံတင်၊ MOA, AOA (မိတ္တူ) များ၊ ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင်မိတ္တူများ၊ စက်ရုံ၏တည်နေရာပြမြေပုံ နှင့် Layout Plan တို့ကို တင်ပြထားပါသည်။

၁၃။ အဆိုပြုချက်အား ၂၀၁၆ ခုနှစ် မတ်လ ၂၁ ရက်နေ့တွင် ကျင်းပသော အဆိုပြုချက် စိစစ်ရေးအဖွဲ့၏ ၁၂/၂၀၁၆ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြထားပါသည်။

၁၄။ **စိစစ်တင်ပြချက်**

(က) ကုမ္ပဏီသည် အဆိုပြုမြေ ၆.၁ ဧကအနက်မှ ၄.၂ ဧကကို အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန် အဆိုပြုတင်ပြလာခြင်းဖြစ်ပြီး ကျန်၁.၉ဧကတွင် သိုလှောင်ရုံနှင့် ကုန်ပစ္စည်းဖြန့်ဖြူးရေး ဝန်ဆောင်မှုလုပ်ငန်းများ ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) ငါးလုပ်ငန်းဦးစီးဌာနပိုင်မြေကို ကုမ္ပဏီသို့ ငှားရမ်းခြင်းအား ပြည်ထောင်စုအစိုးရ အဖွဲ့၏ ၂၀၁၅ ခုနှစ် ဇူလိုင်လ ၂၃ရက်နေ့တွင် ကျင်းပခဲ့သော ၁၅/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးမှ သဘောတူခွင့်ပြုပြီးဖြစ်ပါသည်။

၁၅။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေအခန်း(၁၁)၊ ပုဒ်မ ၂၀ပါ (က၊ ဂ၊ စ၊ ဆ၊ ဇ၊ ည) အရ အခွန်အကောက်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်များကိုတင်ပြလျှောက်ထားလျှင် ခွင့်ပြုနိုင်မည် ဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၆။ မြန်မာနိုင်ငံရှိ MSL Industries Company Limited မှ မြန်မာနိုင်ငံသားများ ရင်းနှီး မြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရပ်ကွက်၊ ဘုရင့်နောင် လမ်းမ၊ အမှတ်-၂၂ ငါးလုပ်ငန်းဦးစီးဌာန၏ မြေ ၆.၁ ဧက အနက်မှ ၄.၂ ဧက (၁၆၉၉၆.၇၉ စတုရန်း မီတာ) ကို ငှားရမ်းကာ Contract Processing စနစ်နှင့် Normal စနစ် (၂) မျိုးဖြင့် ငါး၊ ပုစွန် တို့ကို ပြုပြင်ထုတ်လုပ်၍ ပြည်တွင်းပြည်ပသို့ တင်ပို့ရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စအပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ (ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ/မျှောစာတွဲ

# MSL Industries Company Limited ၏
# ဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ရာထူး | ဒါရိုက်တာ/ အစုရှင်များ၏ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁ | ဦးကြံခင်း<br>၁၂/ ဒဂန (နိုင်) ၀၂၁၅၅၄ | မန်နေးဂျင်း ဒါရိုက်တာ | အမှတ်-၂၈၄/၂၈၆၊ အခန်းအမှတ် -၅၊ ရွှေတိဂုံဘုရားလမ်း၊ ယောမင်းကြီးရပ်ကွက်၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့ |
| ၂ | ဦးဘွန်ခင်<br>၁၂/ ဒဂန (နိုင်) ၀၀၇၁၉၀ | ဒါရိုက်တာ | အမှတ်(၃-က)၊ ဇောတိရိပ်သာလမ်း၊ ရွှေတောင်ကြား (၂)ရပ်ကွက်၊ ဗဟန်းမြို့နယ်၊ ရန်ကုန်မြို့ |
| ၃ | ဦးဝင်းအောင်ကြူ<br>၁၂/ ပဘတ(နိုင်)၀၀၈၃၈၈ | ဒါရိုက်တာ | အမှတ်(၂၁၅)၊ ဒုတိယထပ်(ဝဲ)၊ အနော်ရထာလမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့ |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် — ၀၉-၅၁၀၀၉၈၄

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ — အမှတ်(၂၁၅)၊ ဒုတိယထပ်(ဝဲ)၊အနော်ရထာလမ်း၊ ပန်းဘဲတန်းမြို့နယ်၊ ရန်ကုန်မြို့

၃။ ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး — ဦးဝင်းအောင်ကြူ

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့် လုပ်ငန်းများ — Contract Processing စနစ်နှင့် Normal စနစ် (၂) မျိုးဖြင့် ငါး၊ ပုစွန်တို့ကိုပြုပြင်ထုတ်လုပ်၍ ပြည်တွင်း ပြည်ပသို့ တင်ပို့ရောင်းချခြင်းလုပ်ငန်း

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ — ၂၁၈၉/၂၀၁၄-၂၀၁၅ (၁-၈-၂၀၁၄)

၆။ ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ — ၁-၈-၂၀၁၄ မှ ၃၁-၇-၂၀၁၉

၇။ ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် — -




# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၅ / MIC

ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဇူလိုင် လ ၂၀ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၂၄. ၃. ၂၀၁၆)ရက်စွဲပါစာအမှတ်၊ ရက-၄/ မ-၂၃၇/ ၂၀၁၆(၂၆၇)

၁။ MSL Industries Company Limited မှ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရပ်ကွက်၊ ဘုရင့်နောင်လမ်းမ၊ အမှတ်-၂၂ ငါးလုပ်ငန်းဦးစီးဌာန၏ မြေ ၆. ၁ ဧက အနက် မြေဧရိယာ ၄. ၂ ဧက (၁၆၉၉၆. ၇၉ စတုရန်းမီတာ)ကို ငှားရမ်းကာ Contract Processing စနစ်နှင့် Normal စနစ်(၂)မျိုးဖြင့် ငါး၊ ပုစွန်တို့ကို ပြုပြင်ထုတ်လုပ်၍ ပြည်တွင်းပြည်ပသို့ တင်ပို့ရောင်းချခြင်းနှင့် ပြည်ပသို့ ပြန်လည်တင်ပို့ခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် မွေးမြူရေး၊ ရေလုပ်ငန်းနှင့်ကျေးလက်ဒေသဖွံ့ဖြိုးတိုးတက်ရေးဝန်ကြီးဌာနမှတစ်ဆင့် လျှောက်ထားလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိကြောင်း တင်ပြအပ်ပါသည်။

ဝန်ကြီးချုပ်(ကိုယ်စား)
(နော်ပန်းသဉ္ဇာမြိုး၊ တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး)

မိတ္တူကို

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
MSL Industries Company Limited
လက်ခံစာတွဲ/မျှောစာတွဲ

D/2016/Letter (MIC) (11)



ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ဝဝ၁/ MIC(OSS) /ဝ၁( ၁၂၁ / ၁၈၄ )
ရက် စွဲ ၊၂ဝ၁၆ခုနှစ် မတ် လ ၃၁ ရက်

ITC, 158 သို့
31/3

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **MSL Industries Company Limited မှ Contract Processing စနစ်နှင့် Normal စနစ်(၂)မျိုးဖြင့်ငါး၊ ပုစွန်တို့ကို ပြုပြင်ထုတ်လုပ်၍ ပြည်တွင်း၊ ပြည်ပသို့တင်ပို့ရောင်းချခြင်းနှင့်ပြည်ပသို့ပြန်လည်တင်ပို့ခြင်း လုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍ သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄-၃-၂ဝ၁၆ ရက်စွဲပါစာအမှတ်၊ ရက-၂/ မ-၂၃၇/ ၂ဝ၁၆(၂၆၅)

၁။ မြန်မာနိုင်ငံရှိ MSL Industries Company Limited မှမြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဖြင့်ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရပ်ကွက်၊ ဘုရင့်နောင်လမ်းမ၊အမှတ်-၂၂၊ ငါးလုပ်ငန်းဦးစီးဌာန၏ မြေ ၆.၁ ဧက အနက်မှ ၄.၂ ဧက (၁၆၉၉၆.၇၉ စတုရန်းမီတာ)ကိုငှားရမ်းကာ Contract စနစ်နှင့် Normalစနစ်(၂)မျိုးဖြင့်ငါး၊ပုစွန်တို့ကို ပြုပြင်ထုတ်လုပ်၍ ပြည်တွင်း၊ပြည်ပသို့တင်ပို့ရောင်းချခြင်းနှင့် ပြည်ပသို့ပြန်လည်တင်ပို့ခြင်း လုပ်ငန်းကိုဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်ပတ်သက်၍စိစစ်ပြီး သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့်အကြောင်းကြားလာပါသည်။

၂။ ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ရင်းနှီးမြှုပ်နှံမှုကာလမှာ ကနဦးနှစ်(၅ဝ)နှင့်(၁ဝ)နှစ်သက်တမ်းတိုး(၂)ကြိမ်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ(၁)နှစ်ဖြစ်ကြောင်း၊စက်ရုံတွင်တန်(၃၅ဝ)ဆန့်အအေးခန်းသိုလှောင်ရုံ(၂)လုံးနှင့် တန်(၃ဝဝ)ဆန့်အအေးခန်းသိုလှောင်ရုံ(၁)လုံး၊တစ်နေ့တန်(၅ဝ)ကျရေခဲစက်တစ်လုံးပါဝင်ကြောင်း၊ မီးဘေး ကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းများသက်သာချောင်ချိရေးနှင့် လုပ်ငန်းခွင်သာယာရေးအစီအစဉ်များကိုလည်းထားရှိဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊လုပ်ငန်းမှရရှိလာသော အသားတင်အမြတ်ငွေ၏ (၂%)အား

လူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံဆောင်ရွက်မှု ( Corporate Social Responsibility-CSR)လုပ်ငန်းများတွင်ထည့်သွင်း အသုံးပြုသွားမည်ဖြစ်ကြောင်းဖော်ပြပါရှိပါသည်။ သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်ပတ်သက်၍ ငါး/ပုဇွန်ထုတ်လုပ်မှုကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမရှိစေရန် ရေဆိုးသန့်စင်ကန်တည်ဆောက်၍ စွန့်ပစ်ရေဆိုးများအားသန့်စင်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုမရှိစေရန် ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ MSL Industries Company Limited မှ တည်ဆောက်ရေးလုပ်ငန်းများ ဆောင်ရွက်ခြင်းကြောင့် ထွက်ရှိလာမည့်ဖုန်မှုန့်နှင့်မြေသားအမှုန်အမွှား များကြောင့် ပတ်ဝန်းကျင်လေထုညစ်ညမ်းခြင်း၊ တည်ဆောက်ရေးလုပ်ငန်းသုံး ယာဉ်ယန္တရားများ၏ စွန့်ပစ်ပစ္စည်းများဖြစ်သော စက်သုံးဆီ၊ချောဆီများနှင့် ဆူညံသံများကြောင့် ပတ်ဝန်းကျင်ညစ်ညမ်းခြင်း၊ လုပ်ငန်းများစတင်လုပ်ကိုင်စဉ်အအေးခန်းများမှထွက်ရှိလာမည့်ငါးပုဇွန်အစအနများ၊စွန့်ပစ်ရေဆိုးများ၊အနံ့အသက်များကြောင့် ပတ်ဝန်းကျင်ရေထု၊လေထု၊မြေထုညစ်ညမ်းခြင်းနှင့် ပတ်ဝန်းကျင်ပြည်သူလူထုအားအနှောင့်အယှက်ဖြစ်စေခြင်း၊ အအေးခန်းသိုလှောင်ရုံများတွင်အသုံးပြုမည့်လေအေးပေးစက်များနှင့်ရေခဲစက်များမှထွက်ရှိလာမည့်Green House Gas-GHG များကြောင့်လေထုအပေါ် သက်ရောက်မှုရှိနိုင်ခြင်း စသည့်ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ MSL Industries Company Limited မှ ငါး၊ပုဇွန်တို့ကို ပြုပြင်ထုတ်လုပ်၍ပြည်တွင်း၊ပြည်ပသို့တင်ပို့ရောင်းချခြင်းနှင့် ပြည်ပသို့ပြန်လည်တင်ပို့ခြင်း လုပ်ငန်းအားဆောင်ရွက်ခွင့်ပြုပါရန်တင်ပြလာခြင်းကိစ္စနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းများကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့်ကျန်းမာရေးထိခိုက်ပျက်စီးမှုများကိုလျော့နည်းစေရန်အတွက်လုပ်ငန်းဆိုင်ရာအချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံးဖြစ်စေမည့် နည်းစနစ်များအား အသုံးပြုရန်နှင့်အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးအကျိုးပြုလုပ်ငန်းများတာဝန်ခံပူးပေါင်းဆောင်ရွက်မှု(Corporate Social Responsibility–CSR )အတွက်အသားတင်

အမြတ်ငွေ၏(၂%)ကို အသုံးပြုခြင်းအပါအဝင် ကတိကဝတ်များအား လိုက်နာအကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ခ) အဆိုပြုလုပ်ငန်းများကြောင့် ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမရှိစေရေး(သို့မဟုတ်)ထိခိုက်မှုအနည်းဆုံးဖြစ်စေရေးတို့အတွက် အဆိုပြုလွှာတွင်ဖော်ပြထားသည့်အတိုင်း **ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း**( Initial Environmental Examination – IEE ) ကိုဆောင်ရွက်ပြီး ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းဆိုင်ရာလုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ အစီရင်ခံစာရေးသားတင်ပြရန်။

(ဂ) အထက်ပါလေ့လာဆန်းစစ်မှုရလဒ်များကို အခြေခံ၍ပတ်ဝန်းကျင်နှင့်လူမှုရေးထိခိုက်မှုမဖြစ်ပေါ်စေရေး(သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့်အစီအစဉ် စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည်စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှုလျော့ပါးစေရေးဆောင်ရွက်မည့်လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေစသည်တို့ ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** ( Environmental Manangement Plan – EMP )ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်။

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်းများ၊ ညွှန်ကြားချက်များ၊ မြို့တော်စည်ပင်သာယာရေးကော်မတီ၏ဥပဒေ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ ညွှန်ကြားချက်များနှင့်အညီလိုက်နာဆောင်ရွက်ရန်။

(င) သက်ဆိုင်ရာ တိုင်းဒေသကြီးအစိုးရအဖွဲ့၏ကြီးကြပ်ကွပ်ကဲမှုဖြင့် ဒေသခံပြည်သူများ၏ဆန္ဒနှင့်သဘောထားများရယူဆောင်ရွက်ရန်။

(ဇော်မိုး)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

မိတ္တူကို

ပြည်ထောင်စုဝန်ကြီးရုံး
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ဒုတိယဝန်ကြီး(ပတ်ဝန်းကျင်)
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

ITC, 162/614



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
## စက်မှုဝန်ကြီးဌာန

စာအမှတ်၊ ၂၁-စမ(၂)၂၀၁၆-၂၀၁၇(၁၁၃)
ရက်စွဲ၊ ၂၀၁၆ ခုနှစ်၊ ဧပြီလ ၄ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၄.၃.၂၀၁၆ ရက်စွဲပါ စာအမှတ်၊ ရက-၂/မ-၂၃၇/၂၀၁၆ (၂၆၆)

၁။ MSL Industries Co.,Ltd. မှ နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဖြင့် ရန်ကုန်တိုင်းဒေသကြီး၊ အင်းစိန်မြို့နယ်၊ အနောက်ကြို့ကုန်းရပ်ကွက်၊ ဘုရင့်နောင်လမ်းမ၊ အမှတ်(၂၂)တွင် Contract Processing စနစ်နှင့် Nomal စနစ်(၂)မျိုးဖြင့် ငါး၊ ပုစွန်တို့ကို ပြုပြင်ထုတ်လုပ်၍ ပြည်တွင်း ပြည်ပသို့ တင်ပို့ရောင်းချခြင်းနှင့် ပြည်ပသို့ ပြန်လည်တင်ပို့ခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက်ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှ ဆောင်ရွက်မည့်လုပ်ငန်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) နိုင်ငံသားရင်းနှီးမြှုပ်နှံပြီး Contract Processing စနစ်နှင့် Nomal စနစ် (၂)မျိုးဖြင့် ငါး၊ ပုစွန်တို့ကို ပြုပြင်ထုတ်လုပ်၍ ပြည်တွင်း ပြည်ပသို့ တင်ပို့ရောင်းချခြင်းနှင့် ပြည်ပသို့ ပြန်လည်တင်ပို့ခြင်းလုပ်ငန်း ဆောင်ရွက်မည်ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) ကျန်းမာရေးဝန်ကြီးဌာန၊ အစားအသောက်နှင့်ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ စိစစ်ချက်နှင့် သဘောထားမှတ်ချက် လိုအပ်ပါသည်။

(ဃ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေး တို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

( င) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

၃။ သို့ပါ၍ MSL Industries Co.,Ltd. မှ Contract Processing စနစ်နှင့် Nomal စနစ်(၂)မျိုးဖြင့် ငါး၊ ပုစွန်တို့ကို ပြုပြင်ထုတ်လုပ်၍ ပြည်တွင်းပြည်ပသို့ တင်ပို့ရောင်းချခြင်းနှင့် ပြည်ပသို့ ပြန်လည်တင်ပို့ခြင်းလုပ်ငန်းဆောင်ရွက်ရာတွင် အထက်ပါလိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံသားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံးလုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၄.၄.၁၆

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို
စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန